## ထုတ်ကုန်ပစ္စည်းများကုန်ကျစရိတ်တန်ဖိုး

၁၄။ ထုတ်ကုန်များထုတ်လုပ်ရာတွင် ကုန်ကျစရိတ်တန်ဖိုးမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ ကုန်ကြမ်းသုံးစွဲရာတွင် နှစ်ဆုံး၌ဝယ်ယူကုန်ကြမ်း၏ ၁၀%လက်ကျန်အဖြစ် ကျန်ရှိပါမည်။

ဇယား - ၇

(က) ကုန်ကြမ်းစရိတ် — အမေရိကန်ဒေါ်လာ ( ၀.၀၀၀ )

| အကြောင်းအရာ \ နှစ် | ပထမ | ဒုတိယ | တတိယ | စတုတ္ထ | ပဥ္စမ | ဆဋ္ဌမ | သတ္တမ | အဋ္ဌမ | နဝမ | ဒသမ |
|---|---|---|---|---|---|---|---|---|---|---|
| သစ်သား<br>က။ ကျွန်း၊ ပျဉ်းကတိုး<br>တံခါးများ Doors<br>(၁) ထုတ်လုပ်မှု | ၁၀၈၀၀ | ၁၀၈၀၀ | ၁၂၆၀၀ | ၁၂၆၀၀ | ၁၄၄၀၀ | ၁၄၄၀၀ | ၁၄၄၀၀ | ၁၆၂၀၀ | ၁၆၂၀၀ | ၁၆၂၀၀ |
| (၂) လိုအပ်သည့်သစ်တန်<br>တန်၈၀=ခုရေ ၁၂၀၀ | ၇၂၀ | ၇၂၀ | ၈၄၀ | ၈၄၀ | ၉၆၀ | ၉၆၀ | ၉၆၀ | ၁၀၈၀ | ၁၀၈၀ | ၁၀၈၀ |
| (၃) တစ်တန်ဈေးနှုန်း<br>USD 2% တိုး | ၈၅၀.၀၀ | ၈၆၇.၀၀ | ၈၈၄.၃၄ | ၉၀၂.၀၂ | ၉၂၀.၀၆ | ၉၃၈.၄၇ | ၉၅၇.၂၃ | ၉၇၆.၃၈ | ၉၉၅.၉၁ | ၁၀၁၅.၈၃ |
| (၄) ကျသင့်တန်ဖိုး (၂×၃) | ၆၁၂.၀ | ၆၂၄.၂ | ၇၄၂.၈ | ၇၅၇.၇ | ၈၈၃.၂ | ၉၀၀.၉ | ၉၁၈.၉ | ၁၀၅၄.၅ | ၁၀၇၅.၆ | ၁၀၉၇.၁ |
| ခ။ moulding<br>Scantling Lamination<br>(၁) ထုတ်လုပ်မှုတန် | ၁၂၀၀ | ၁၂၀၀ | ၁၂၀၀ | ၁၄၄၀ | ၁၄၄၀ | ၁၄၄၀ | ၁၆၈၀ | ၁၆၈၀ | ၁၆၈၀ | ၁၉၂၀ |
| (၂) လိုအပ်သစ်တန်<br>လေလွင့် ၂၀% အပါ | ၁၄၄၀ | ၁၄၄၀ | ၁၄၄၀ | ၁၇၂၈ | ၁၇၂၈ | ၁၇၂၈ | ၂၀၁၆ | ၂၀၁၆ | ၂၀၁၆ | ၂၃၀၄ |
| (၃) တစ်တန်နှုန်း USD<br>တစ်နှစ် ၂% တိုး | ၈၅၀.၀၀ | ၈၆၇.၀၀ | ၈၈၄.၃၄ | ၉၀၂.၀၂ | ၉၂၀.၀၆ | ၉၃၈.၄၇ | ၉၅၇.၂၃ | ၉၇၆.၃၈ | ၉၉၅.၉၁ | ၁၀၁၅.၈၃ |
| (၄) ကျသင့်တန်ဖိုး (၂× ၃) | ၁၂၂၄.၀ | ၁၂၄၈.၅ | ၁၂၇၃.၄ | ၁၅၅၈.၇ | ၁၅၈၉.၉ | ၁၆၂၁.၇ | ၁၉၂၉.၈ | ၁၉၆၈.၄ | ၂၀၀၇.၇ | ၂၃၄၀.၅ |
| (၅) စုစုပေါင်းသစ်စရိတ်<br>က(၄) + ခ (၄) | ၁၈၃၆.၀ | ၁၈၇၂.၇ | ၂၀၁၆.၂ | ၂၃၁၆.၄ | ၂၄၇၃.၁ | ၂၅၂၂.၆ | ၂၈၄၈.၇ | ၃၀၂၂.၉ | ၃၀၈၃.၃ | ၃၄၃၇.၆ |
| ဂ။ ပြည်ပသွင်းကုန်<br>၁၀%× ခ | ၁၂၂.၄ | ၁၂၄.၉ | ၁၂၇.၃ | ၁၅၅.၉ | ၁၅၉.၀ | ၁၆၂.၂ | ၁၉၃.၀ | ၁၉၆.၈ | ၂၀၀.၈ | ၂၃၄.၁ |
| ဃ။ အခြား ၅% × ၅ | ၉၁.၈ | ၉၃.၆ | ၁၀၀.၈ | ၁၁၅.၈ | ၁၂၃.၇ | ၁၂၆.၁ | ၁၄၂.၄ | ၁၅၁.၁ | ၁၅၄.၂ | ၁၇၁.၉ |
| စုစုပေါင်း(က+ခ+ဂ+ဃ) | ၂၀၅၀.၂ | ၂၀၉၁.၂ | ၂၂၄၄.၃ | ၂၅၈၈.၁ | ၂၇၅၅.၈ | ၂၈၁၀.၉ | ၃၁၈၄.၁ | ၃၃၇၀.၈ | ၃၄၃၈.၃ | ၃၈၄၃.၆ |
| နှစ်စလက်ကျန် | ၂၀၅.၀ | ၂၀၅.၀ | ၂၀၉.၁ | ၂၂၄.၄ | ၂၅၈.၈ | ၂၇၅.၆ | ၂၈၁.၁ | ၃၁၈.၄ | ၃၃၇.၁ | ၃၄၃.၈ |
| နှစ်ဆုံးလက်ကျန် | (၂၀၅.၀) | (၂၀၉.၁) | (၂၂၄.၄) | (၂၅၈.၈) | (၂၇၅.၆) | (၂၈၁.၁) | (၃၁၈.၄) | (၃၃၇.၁) | (၃၄၃.၈) | (၃၈၄.၄) |
| ၆။ ကုန်ကြမ်းသုံးစွဲမှု | ၂၀၅၀.၂ | ၂၀၈၇.၁ | ၂၂၂၉.၀ | ၂၅၅၃.၇ | ၂၇၃၉.၀ | ၂၈၀၅.၄ | ၃၁၄၆.၈ | ၃၃၅၂.၁ | ၃၄၃၁.၆ | ၃၈၀၃.၀ |

### လက်ငင်းငွေပေးချေမှုနှင့် မြီရှင်လက်ကျန်

ဇယား - ၈

| | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|
| စုစုပေါင်းဝယ်ယူ | ၂၀၅၀.၂ | ၂၀၉၁.၂ | ၂၂၄၄.၃ | ၂၅၈၈.၁ | ၂၇၅၅.၈ | ၂၈၁၀.၉ | ၃၁၈၄.၁ | ၃၃၇၀.၈ | ၃၄၃၈.၃ | ၃၈၄၃.၆ |
| နှစ်စကြွေးကျန် | - | ၄၁.၀ | ၄၁.၈ | ၄၄.၉ | ၅၁.၈ | ၅၅.၁ | ၅၆.၂ | ၆၃.၇ | ၆၇.၄ | ၆၈.၈ |
| နှစ်ဆုံးကြွေးကျန် | (၄၁.၀) | (၄၁.၈) | (၄၄.၉) | (၅၁.၈) | (၅၅.၁) | (၅၆.၂) | (၆၃.၇) | (၆၇.၄) | (၆၈.၈) | (၇၆.၉) |
| လက်ငင်းဝယ်ယူမှု | ၂၀၀၉.၂ | ၂၀၉၀.၄ | ၂၂၄၁.၂ | ၂၅၈၁.၂ | ၂၇၅၂.၅ | ၂၈၀၉.၈ | ၃၁၇၆.၆ | ၃၃၆၇.၁ | ၃၄၃၆.၉ | ၃၈၃၅.၅ |

မှတ်ချက် ။ နှစ်ဆုံးတွင် ဝယ်ယူတန်ဖိုး၏ ၂% ကြွေးပေးရန် ကျန်ရှိပါသည်။

## တိုက်ရိုက်စရိတ်

၁၅။ ထုတ်လုပ်မှုနှင့် တိုက်ရိုက်ဆက်နွယ်သော ကုန်ကျစရိတ်များသည် ထုတ်လုပ်မှု သို့မဟုတ် စက်ရုံတိုက်ရိုက်စရိတ်များဖြစ်ပါသည်။ အောက်ပါဇယားတွင် အသေးစိတ်ဖော်ပြသည့် စရိတ်များကို မူလစရိတ်နှင့်ပေါင်း၍ စာရင်းပြုစုထားပါသည်။

ဇယား - ၉

**တိုက်ရိုက်လုပ်ခစရိတ်** အမေရိကန်ဒေါ်လာ ( ၀.၀၀၀ )

| အကြောင်းအရာ \ နှစ် | ပထမ | ဒုတိယ | တတိယ | စတုတ္ထ | ပဥ္စမ | ဆဋ္ဌမ | သတ္တမ | အဋ္ဌမ | နဝမ | ဒသမ |
|---|---|---|---|---|---|---|---|---|---|---|
| စက်ရုံမန်နေဂျာ USD ၇၅၀ - ၁ ဦး | ၉.၀ | ၉.၀ | ၉.၉ | ၉.၉ | ၁၀.၉ | ၁၀.၉ | ၁၂.၀ | ၁၂.၀ | ၁၃.၂ | ၁၃.၂ |
| ထုတ်လုပ်မှုမန်နေဂျာ USD ၅၀၀ - ၁ ဦး | ၆.၀ | ၆.၀ | ၆.၆ | ၆.၆ | ၇.၃ | ၇.၃ | ၈.၀ | ၈.၀ | ၈.၈ | ၈.၈ |
| စက်မှုအင်ဂျင်နီယာ USD ၄၀၀ - ၁ ဦး | ၄.၈ | ၄.၈ | ၅.၃ | ၅.၃ | ၅.၈ | ၅.၈ | ၆.၄ | ၆.၄ | ၇.၀ | ၇.၀ |
| ဖိုမင် USD ၃၀၀ - ၂ ဦး | ၇.၂ | ၇.၂ | ၇.၉ | ၇.၉ | ၈.၇ | ၈.၇ | ၉.၆ | ၉.၆ | ၁၀.၆ | ၁၀.၆ |
| စက်ကိုင် USD ၁၂၀ - ၁၄ ဦး | ၂၀.၂ | ၂၀.၂ | ၂၂.၂ | ၂၂.၂ | ၂၄.၄ | ၂၄.၄ | ၂၆.၈ | ၂၆.၈ | ၂၉.၅ | ၂၉.၅ |
| စက်ပြင် USD ၁၅၀ - ၁ ဦး | ၁.၈ | ၁.၈ | ၂.၀ | ၂.၀ | ၂.၂ | ၂.၂ | ၂.၄ | ၂.၄ | ၂.၆ | ၂.၆ |
| ကျွမ်းကျင် USD ၁၀၀ - ၆ ဦး | ၇.၂ | ၇.၂ | ၇.၉ | ၇.၉ | ၈.၇ | ၈.၇ | ၉.၆ | ၉.၆ | ၁၀.၆ | ၁၀.၆ |
| အထွေထွေ USD ၈၀ - ၄ ဦး | ၃.၈ | ၃.၈ | ၄.၂ | ၄.၂ | ၄.၆ | ၄.၆ | ၅.၁ | ၅.၁ | ၅.၆ | ၅.၆ |
| ယာဉ်မောင်း USD ၈၀ - ၂ ဦး | ၁.၉ | ၁.၉ | ၂.၁ | ၂.၁ | ၂.၃ | ၂.၃ | ၂.၅ | ၂.၅ | ၂.၇ | ၂.၇ |
| စုစုပေါင်း - ၃၂ ဦး | ၆၁.၉ | ၆၁.၉ | ၆၈.၁ | ၆၈.၁ | ၇၄.၉ | ၇၄.၉ | ၈၂.၄ | ၈၂.၄ | ၉၀.၆ | ၉၀.၆ |

**မှတ်ချက်။ လုပ်သက် ၂နှစ်ပြည့်လျှင် ၁၀% တိုးပေးသွားရန်**

## သွယ်ဝိုက်ဝန်ဆောင်စရိတ်

၁၆။ သွယ်ဝိုက်ဝန်ဆောင်စရိတ်များကို ဇယား (၁၁)နှင့် (၁၂)တို့တွင်ဖော်ပြထားပါသည်။ လုပ်ငန်းသဘာဝ လိုအပ်ချက်အရ ကုန်ကျစရိတ်များကို အတွေ့အကြုံစံများအရ ကျခံထားပါသည်။ စာရင်းဇယားအတွင်း စရိတ်ကျခံရပုံများကို တစ်ပါတည်းဖော်ပြထားပါသည်။

ဇယား - ၁၀

## တိုက်ရိုက်ဝန်ဆောင်စရိတ်များ

အမေရိကန်ဒေါ်လာ ( ၀. ၀၀၀ )

| နှစ် / အကြောင်းအရာ | ပထမ | ဒုတိယ | တတိယ | စတုတ္ထ | ပဉ္စမ | ဆဋ္ဌမ | သတ္တမ | အဋ္ဌမ | နဝမ | ဒသမ |
|---|---|---|---|---|---|---|---|---|---|---|
| လျှပ်စစ်ဓာတ်အား ၁၁၂၅၀၀ KWA ဓာဆင့်နှုန်း | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ |
| စက်ရုံနှင့်စက်ပြင်စရိတ် ပစ္စည်းတန်ဖိုး၁၂၉၀၏၂% | ၂၅. ၈ | ၂၅. ၈ | ၂၅. ၈ | ၂၅. ၈ | ၂၅. ၈ | ၂၅. ၈ | ၂၅. ၈ | ၂၅. ၈ | ၂၅. ၈ | ၂၅. ၈ |
| သယ်ပို့စရိတ် အဝယ်၊အရောင်းတန်ဖိုး ၂၀၅၀. ၂+၃၂၀၇. ၁+၅၂၆၇. ၃ ၏ ၁%နှင့်နှစ်စဉ်၂%တိုးရန် | ၅၂. ၇ | ၅၃. ၇ | ၅၄. ၈ | ၅၅. ၉ | ၅၇. ၀ | ၅၈. ၁ | ၅၉. ၃ | ၆၀. ၅ | ၆၁. ၇ | ၆၂. ၉ |
| တန်ဖိုးလျော့ အဆောက်အဦး၄၆၀၏၅% ၂၃. ၀ စက်ကိရိယာ၇၉၃. ၃၏၁၀%၇၉. ၃ မော်တော်ယာဉ်၃၇၃၏၁၂. ၅%၄၆. ၆ | ၁၀၆. ၉ | ၁၀၆. ၉ | ၁၀၆. ၉ | ၁၀၆. ၉ | ၁၀၆. ၉ | ၁၀၆. ၉ | ၁၀၆. ၉ | ၁၀၇. ၁ | ၁၀၂. ၃ | ၁၀၂. ၃ |
| စုစုပေါင်း | ၁၉၄. ၄ | ၁၉၅. ၄ | ၁၉၆. ၅ | ၁၉၇. ၆ | ၁၉၈. ၇ | ၁၉၉. ၈ | ၂၀၁. ၀ | ၂၀၂. ၄ | ၁၉၈. ၈ | ၂၀၀. ၀ |

ဤစရိတ်စာရင်းတွင်၊ ငွေသားမဟုတ်သော တန်ဖိုးလျော့ငွေ ၁၀၆. ၉ ပါဝင်နေပါသည်။ ငွေသားတွက်ရာတွင်၎င်းကိုလျော့ရန်၊

ဇယား -၁၁

## သွယ်ဝိုက်ဝန်ဆောင်စရိတ်များ (ရုံးလစာ)

အမေရိကန်ဒေါ်လာ (၀. ၀၀၀)

| နှစ် / အကြောင်းအရာ | | ပထမ | ဒုတိယ | တတိယ | စတုတ္ထ | ပဉ္စမ | ဆဋ္ဌမ | သတ္တမ | အဋ္ဌမ | နဝမ | ဒသမ |
|---|---|---|---|---|---|---|---|---|---|---|---|
| ရုံးမန်နေဂျာ ဒေါ်လာ၅၀၀ | ၁ ဦး | ၆. ၀ | ၆. ၀ | ၆. ၆ | ၆. ၆ | ၇. ၃ | ၇. ၃ | ၈. ၀ | ၈. ၀ | ၈. ၈ | ၈. ၈ |
| ရုံးအတွင်းရေးမှူး ဒေါ်လာ၃၀၀ | ၁ ဦး | ၄. ၀ | ၄. ၀ | ၄. ၄ | ၄. ၄ | ၄. ၈ | ၄. ၈ | ၅. ၃ | ၅. ၃ | ၅. ၈ | ၅. ၈ |
| စာရင်းကိုင် ဒေါ်လာ ၃၀၀ | ၁ ဦး | ၄. ၀ | ၄. ၀ | ၄. ၄ | ၄. ၄ | ၄. ၈ | ၄. ၈ | ၅. ၃ | ၅. ၃ | ၅. ၈ | ၅. ၈ |
| ပစ္စည်းထိန်း ဒေါ်လာ၃၀၀ | ၁ ဦး | ၄. ၀ | ၄. ၀ | ၄. ၄ | ၄. ၄ | ၄. ၈ | ၄. ၈ | ၅. ၃ | ၅. ၃ | ၅. ၈ | ၅. ၈ |
| ရုံးဝန်ထမ်းနှင့်စာရင်းဝန်ထမ်း ဒေါ်လာ၁၅၀ | ၆ ဦး | ၁၀. ၈ | ၁၀. ၈ | ၁၁. ၉ | ၁၁. ၉ | ၁၃. ၁ | ၁၃. ၁ | ၁၄. ၄ | ၁၄. ၄ | ၁၅. ၈ | ၁၅. ၈ |
| အရောင်းစာရေး ဒေါ်လာ၁၅၀ | ၃ ဦး | ၅. ၄ | ၅. ၄ | ၅. ၉ | ၅. ၉ | ၆. ၅ | ၆. ၅ | ၇. ၂ | ၇. ၂ | ၇. ၉ | ၇. ၉ |
| အဝယ်တော် ဒေါ်လာ၁၅၀ | ၃ ဦး | ၅. ၄ | ၅. ၄ | ၅. ၉ | ၅. ၉ | ၆. ၅ | ၆. ၅ | ၇. ၂ | ၇. ၂ | ၇. ၉ | ၇. ၉ |
| အထွေထွေ ဒေါ်လာ၈၀ | ၂ ဦး | ၂. ၀ | ၂. ၀ | ၂. ၂ | ၂. ၂ | ၂. ၄ | ၂. ၄ | ၂. ၆ | ၂. ၆ | ၂. ၇ | ၂. ၇ |
| ယာဉ်မောင်း ဒေါ်လာ၈၀ | ၂ ဦး | ၂. ၀ | ၂. ၀ | ၂. ၂ | ၂. ၂ | ၂. ၄ | ၂. ၄ | ၂. ၆ | ၂. ၆ | ၂. ၇ | ၂. ၇ |
| ရုံးအကူ ဒေါ်လာ၅၀ | ၂ ဦး | ၁. ၂ | ၁. ၂ | ၁. ၃ | ၁. ၃ | ၁. ၄ | ၁. ၄ | ၁. ၅ | ၁. ၅ | ၁. ၇ | ၁. ၇ |
| စုစုပေါင်း | ၂၂ ဦး | ၄၄. ၈ | ၄၄. ၈ | ၄၉. ၂ | ၄၉. ၂ | ၅၄. ၀ | ၅၄. ၀ | ၅၉. ၄ | ၅၉. ၄ | ၆၄. ၉ | ၆၄. ၉ |

၂-နှစ်ပြည့်သောသူများကို ၂-နှစ်ပြည့်တိုင်း ၁၀% တိုးပေးရန်ဖြစ်ပါသည်။

# သွယ်ဝိုက်ဝန်ဆောင်စရိတ်များ (အခြား)

ဇယား - ၁၂

**အမေရိကန်ဒေါ်လာ (၀. ၀၀၀)**

| အကြောင်းအရာ \ နှစ် | | ပထမ | ဒုတိယ | တတိယ | စတုတ္ထ | ပဉ္စမ | ဆဋ္ဌမ | သတ္တမ | အဋ္ဌမ | နဝမ | ဒသမ |
|---|---|---|---|---|---|---|---|---|---|---|---|
| ၁။ ဒါရိုက်တာလစာများ | | ၆၀. ၀ | ၆၀. ၀ | ၆၀. ၀ | ၆၀. ၀ | ၆၀. ၀ | ၆၀. ၀ | ၆၀. ၀ | ၆၀. ၀ | ၆၀. ၀ | ၆၀. ၀ |
| ဒါရိုက်တာ ၅ဦးဒေါ်လာ | | | | | | | | | | | |
| ၁၀၀၀နှုန်း ၅ဦး | | | | | | | | | | | |
| ၂။ မော်တော်ယာဥ်စရိတ် | | | | | | | | | | | |
| ပြင်ဆင်စရိတ် ၅%တိုး | | ၂. ၀ | ၂. ၁ | ၂. ၂ | ၂. ၃ | ၂. ၄ | ၂. ၅ | ၂. ၆ | ၂. ၇ | ၂. ၈ | ၂. ၉ |
| ဓာတ်ဆီ/ဒီဇယ်ဆီ | | | | | | | | | | | |
| ၂၈၅၇ ဂါလံ US$ | 1.40 | ၄. ၀ | ၄. ၀ | ၄. ၀ | ၄. ၀ | ၄. ၀ | ၄. ၀ | ၄. ၀ | ၄. ၀ | ၄. ၀ | ၄. ၀ |
| ၃။ ခရီးစရိတ် | | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ |
| ပြည်တွင်းခရီး | ၃. ၀ | | | | | | | | | | |
| ပြည်ပခရီး | ၆. ၀ | | | | | | | | | | |
| ၄။ ဧည့်ခံစရိတ် | | ၁၀. ၀ | ၁၀. ၀ | ၁၀. ၀ | ၁၀. ၀ | ၁၀. ၀ | ၁၀. ၀ | ၁၀. ၀ | ၁၀. ၀ | ၁၀. ၀ | ၁၀. ၀ |
| သာမန် | ၂. ၀ | | | | | | | | | | |
| ပြည်ပဧည့် | ၈. ၀ | | | | | | | | | | |
| ၅။ ပုံနှိပ်နှင့်စာရေးကိရိယာ | | ၃. ၀ | ၃. ၂ | ၃. ၄ | ၃. ၆ | ၃. ၈ | ၄. ၀ | ၄. ၂ | ၄. ၄ | ၄. ၆ | ၄. ၈ |
| နှစ်စဉ် ၅% တိုး | | | | | | | | | | | |
| ၆။ ရုံးအသုံးအဆောင်ပစ္စည်း | | ၅. ၀ | ၅. ၂ | ၅. ၅ | ၅. ၈ | ၆. ၁ | ၆. ၄ | ၆. ၇ | ၇. ၀ | ၇. ၄ | ၇. ၈ |
| နှစ်စဉ် ၅% တိုး | | | | | | | | | | | |
| ၇။ အခြားပြင်စရိတ် | | ၁. ၅ | ၁. ၅ | ၁. ၅ | ၁. ၅ | ၁. ၅ | ၁. ၅ | ၁. ၅ | ၁. ၅ | ၁. ၅ | ၁. ၅ |
| ၈။ အလှူငွေထည့်ဝင်ခြင်း | | | | | | | | | | | |
| မြို့နယ် | | ၀. ၅ | ၀. ၅ | ၀. ၅ | ၀. ၅ | ၀. ၅ | ၀. ၅ | ၀. ၅ | ၀. ၅ | ၀. ၅ | ၀. ၅ |
| ဗဟို | | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ |
| ၉။ တယ်လီဖုန်းဖက်၊တဲလက် | | | | | | | | | | | |
| ကိုရီးယားစာပို့ | | ၇. ၀ | ၈. ၀ | ၈. ၀ | ၈. ၀ | ၉. ၀ | ၉. ၀ | ၉. ၀ | ၁၀. ၀ | ၁၀. ၀ | ၁၀. ၀ |
| အလုပ်များလာမှုအခြေအနေ | | | | | | | | | | | |
| ၁၀။ အထွေထွေစရိတ် | | ၅. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ |
| ၁၁။ တန်ဖိုးလျှော့ | | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ | ၂. ၀ |
| ရုံးသုံးပရိဘောဂ | | | | | | | | | | | |
| ဖက်၊ ကော်ပီယာလက်နှိပ်စက် | | | | | | | | | | | |
| ၁၀%တန်ဖိုး | ၂၀. ၀ | | | | | | | | | | |
| ၁၂။ ရောင်းချဖြန့်ဖြူးစရိတ် | | | | | | | | | | | |
| ကြော်ငြာစရိတ် | ၄. ၀ | ၄. ၀ | ၄. ၀ | ၄. ၀ | ၄. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ | ၅. ၀ |
| ပြည်ပပို့ကုန်စရိတ် | ၆. ၀ | ၆. ၃ | ၆. ၆ | ၆. ၉ | ၇. ၂ | ၇. ၅ | ၇. ၉ | ၈. ၃ | ၈. ၇ | ၉. ၁ | ၉. ၆ |
| (၅% တိုးရန်) | | | | | | | | | | | |
| ၁၃။ ကြိုတင်အသုံးစရိတ်ကျခံ | | ၂. ၆ | ၂. ၆ | ၂. ၆ | ၂. ၆ | ၂. ၆ | ၂. ၆ | ၂. ၆ | ၂. ၆ | ၂. ၆ | ၂. ၆ |
| ကျခံခြင်း (၁၀နှစ်) | ၂. ၆ | | | | | | | | | | |
| ၁၄။ အာမခံစရိတ် (အဆောက်အဦ၊ | | ၈. ၂ | ၈. ၂ | ၈. ၂ | ၈. ၂ | ၈. ၂ | ၈. ၂ | ၈. ၂ | ၈. ၂ | ၈. ၂ | ၈. ၂ |
| စက်၊ ယာဥ်) | | | | | | | | | | | |
| **စုစုပေါင်း** | | ၁၃၂. ၁ | ၁၃၃. ၉ | ၁၃၄. ၈ | ၁၃၅. ၇ | ၁၃၈. ၆ | ၁၃၉. ၆ | ၁၄၀. ၆ | ၁၄၂. ၆ | ၁၄၃. ၇ | ၁၄၄. ၉ |

ငွေစရိတ်တွင် ငွေသားမဟုတ်သော ကြိုတင်အသုံးစရိတ်ကျခံငွေ ၂. ၆ နှင့်တန်ဖိုးလျှော့ ၂. ၀ ပါဝင်နေပါသည်။ ငွေသားတွက်ရာတွင်၎င်းကိုလျှော့ရန်

# ရွှေခြင်္သေ့အင်တာနေရှင်နယ်ဟိုးလ်ဒင်းစက်ရုံ၏
# စီမံကိန်းဆိုင်ရာအရှုံးအမြတ်စာရင်းများ (လုပ်ငန်းလုပ်ဆောင်မှုကာလ)

ဇယား - ၁၃

အမေရိကန်ဒေါ်လာ ( ၀.၀၀၀ )

| နှစ် / အကြောင်းအရာ | အညွှန်း | ပထမ | ဒုတိယ | တတိယ | စတုတ္ထ | ပဉ္စမ | ဆဋ္ဌမ | သတ္တမ | အဋ္ဌမ | နဝမ | ဒသမ | စုစုပေါင်း |
|---|---|---|---|---|---|---|---|---|---|---|---|---|
| (၁) ဝင်ငွေ | ဇယား ၅/၁က+၂က | ၃၃၈၆.၄ | ၃၄၅၂.၄ | ၃၇၂၀.၈ | ၄၂၇၆.၀ | ၄၅၆၈.၄ | ၄၆၅၅.၂ | ၅၂၅၆.၉ | ၅၅၇၉.၀ | ၅၆၉၉.၀ | ၆၃၃၄.၇ | ၄၆၉၂၈.၈ |
| ပေါင်း-အခြားဝင်ငွေ | ဇယား ၆ | ၁၃.၀ | ၁၃.၀ | ၁၃.၇ | ၁၅.၄ | ၁၆.၁ | ၁၆.၁ | ၁၇.၉ | ၁၈.၆ | ၁၈.၆ | ၂၀.၃ | ၁၆၂.၇ |
| (၂) စုစုပေါင်းဝင်ငွေ | | ၃၃၉၉.၄ | ၃၄၆၅.၄ | ၃၇၃၄.၅ | ၄၂၉၁.၄ | ၄၅၈၄.၅ | ၄၆၇၁.၃ | ၅၂၇၄.၈ | ၅၅၉၇.၆ | ၅၇၁၇.၆ | ၆၃၅၅.၀ | ၄၇၀၉၁.၅ |
| (၃) နှတ်ရောင်းချငွေအတွက် တိုက်ရိုက် | | ၂၃၀၆.၅ | ၂၃၄၄.၄ | ၂၄၉၃.၆ | ၂၈၁၉.၄ | ၃၀၁၂.၆ | ၃၀၈၀.၁ | ၃၄၃၀.၂ | ၃၆၃၆.၉ | ၃၇၂၁.၀ | ၄၀၉၃.၉ | ၃၀၉၃၈.၆ |
| စရိတ်များ ကုန်ကြမ်း | ဇယား ၇ | ၂၀၅၀.၂ | ၂၀၈၇.၁ | ၂၂၂၉.၀ | ၂၅၅၃.၇ | ၂၇၃၉.၀ | ၂၈၀၅.၄ | ၃၁၄၆.၈ | ၃၃၅၂.၁ | ၃၄၃၁.၆ | ၃၈၀၃.၀ | ၂၈၁၉၇.၉ |
| လုပ်ခ | ဇယား ၉ စုစုပေါင်း | ၆၁.၉ | ၆၁.၉ | ၆၈.၁ | ၆၈.၁ | ၇၄.၉ | ၇၄.၉ | ၈၂.၄ | ၈၂.၄ | ၉၀.၆ | ၉၀.၉ | ၇၅၆.၁ |
| ဝန်ဆောင်စရိတ် | ဇယား ၁၀ စုစုပေါင်း | ၁၉၄.၄ | ၁၉၅.၄ | ၁၉၆.၅ | ၁၉၇.၆ | ၁၉၈.၇ | ၁၉၉.၈ | ၂၀၀.၀ | ၂၀၂.၄ | ၁၉၈.၈ | ၂၀၀.၀ | ၁၉၈၄.၆ |
| (၄) အကြမ်းအမြတ် | ၂-၃ | ၁၀၉၂.၉ | ၁၁၂၀.၀ | ၁၂၄၀.၉ | ၁၄၇၂.၀ | ၁၅၇၀.၉ | ၁၅၉၀.၂ | ၁၈၄၄.၆ | ၁၉၆၀.၇ | ၁၉၉၆.၆ | ၂၂၆၁.၁ | ၁၆၁၅၁.၉ |
| (၅) နှတ်လုပ်ငန်းကုန်ကျစရိတ် | | ၁၇၆.၉ | ၁၇၈.၇ | ၁၇၄.၀ | ၁၈၄.၉ | ၁၉၂.၆ | ၁၉၃.၆ | ၂၀၀.၀ | ၂၀၂.၀ | ၂၀၈.၆ | ၂၀၉.၈ | ၁၉၃၀.၁ |
| (က) လစာနှင့်စရိတ် | ဇယား ၁၁စုစုပေါင်း | ၄၄.၈ | ၄၄.၈ | ၄၉.၂ | ၄၉.၂ | ၅၄.၀ | ၅၄.၀ | ၅၉.၄ | ၅၉.၄ | ၆၄.၉ | ၆၄.၉ | ၅၄၄.၆ |
| (ခ) သွယ်ဝိုက်ဝန်ဆောင်စရိတ်များ | ဇယား ၁၂စုစုပေါင်း | ၁၃၂.၁ | ၁၃၃.၉ | ၁၃၄.၈ | ၁၃၅.၇ | ၁၃၈.၆ | ၁၃၉.၆ | ၁၄၀.၆ | ၁၄၂.၆ | ၁၄၃.၇ | ၁၄၄.၉ | ၁၃၈၆.၅ |
| (၆) အမြတ်ခွန်မနှတ်မီအမြတ် | ၄-၅ | ၉၁၆.၀ | ၉၄၂.၃ | ၁၀၅၆.၉ | ၁၂၈၇.၃ | ၁၃၇၉.၃ | ၁၃၉၇.၆ | ၁၆၄၄.၆ | ၁၇၅၈.၇ | ၁၇၈၈.၀ | ၂၀၅၃.၃ | ၁၄၂၂၀.၈ |
| (၇) နှတ် အမြတ်ခွန် ၃၀% | | - | - | - | ၃၈၆.၁ | ၄၁၃.၈ | ၄၁၉.၃ | ၄၉၃.၄ | ၅၂၇.၆ | ၅၃၆.၄ | ၆၁၅.၄ | ၃၃၉၂.၀ |
| (၈) အမြတ်ခွန်နှတ်ပြီးအမြတ် | | ၉၁၆.၀ | ၉၄၂.၃ | ၁၀၅၆.၉ | ၉၀၁.၀ | ၉၆၅.၅ | ၉၇၈.၃ | ၁၁၅၁.၂ | ၁၂၃၁.၁ | ၁၂၅၁.၆ | ၁၄၃၇.၉ | ၁၀၈၂၉.၈ |
| (၉) အမြတ်ဝေစုထုက်ငွေ | အစုပေါ် % | ၄၉.၃% | ၄၉.၃% | ၄၉.၃% | ၇၃.၉% | ၇၃.၉% | ၇၃.၉% | ၇၃.၉% | ၉၈.၆% | ၉၈.၆% | ၉၈.၆% | |
| | | ၄၅၁.၆ | ၄၆၄.၅ | ၅၂၁.၁ | ၆၆၅.၈ | ၇၁၃.၅ | ၇၂၃.၀ | ၈၅၀.၇ | ၁၂၁၃.၉ | ၁၂၃၄.၁ | ၁၄၁၅.၈ | ၈၂၅၄.၀ |
| (၁၀) လုပ်ငန်းတွင်ထိန်းထားအမြတ် | | ၄၆၄.၄ | ၄၇၇.၈ | ၅၃၅.၈ | ၂၃၅.၂ | ၂၅၂.၀ | ၂၅၅.၃ | ၃၀၀.၅ | ၁၇.၂ | ၁၇.၅ | ၂၀.၁ | ၂၅၇၅.၈ |
| (၁၁) နှစ်အလိုက် ဆက်တိုက်ပေါင်း | | ၄၆၄.၄ | ၉၄၂.၂ | ၁၄၇၈.၀ | ၁၇၁၃.၂ | ၁၉၆၅.၂ | ၂၂၂၀.၅ | ၂၅၂၀.၀ | ၂၅၃၈.၂ | ၂၅၅၅.၇ | ၂၅၇၅.၈ | |

# ရွှေခြသေ့်အင်တာနေရှင်နယ်ဟိုးလ်ဒင်းစက်ရုံ
## စီမံကိန်းလက်ကျန်ရှင်းတမ်းများ

ဇယား - ၁၄

အမေရိကန်ဒေါ်လာ ( ၀.၀၀၀ )

| အကြောင်းအရာ / နှစ် | | အကြိုနှစ် | ပထမ | ဒုတိယ | တတိယ | စတုတ္ထ | ပဥ္စမ | ဆဋ္ဌမ | သတ္တမ | အဋ္ဌမ | နဝမ | ဒသမ |
|---|---|---|---|---|---|---|---|---|---|---|---|---|
| ၁။ ပုံသေပိုင်ပစ္စည်းများ | | | | | | | | | | | | |
| (က) မြေ | | ၁၂၈.၃ | ၁၂၈.၃ | ၁၂၈.၃ | ၁၂၈.၃ | ၁၂၈.၃ | ၁၂၈.၃ | ၁၂၈.၃ | ၁၂၈.၃ | ၁၂၈.၃ | ၁၂၈.၃ | ၁၂၈.၃ |
| (ခ) အဆောက်အဦ | | ၄၆၀.၀ | ၄၃၇.၀ | ၄၁၄.၀ | ၃၉၁.၀ | ၃၆၈.၀ | ၃၄၅.၀ | ၃၂၂.၀ | ၂၉၉.၀ | ၂၇၆.၀ | ၂၅၃.၀ | ၂၃၀.၀ |
| (ဂ) စက်နှင့်စက်ပစ္စည်း | | ၇၉၃.၃ | ၇၁၄.၀ | ၆၃၄.၇ | ၅၅၅.၄ | ၄၇၆.၁ | ၃၉၆.၈ | ၃၁၇.၅ | ၂၃၈.၂ | ၁၅၈.၉ | ၇၉.၆ | - |
| (ဃ) ယာဉ် | | ၃၇.၀ | ၃၂.၄ | ၂၇.၈ | ၂၃.၂ | ၁၈.၆ | ၁၄.၀ | ၉.၄ | ၄.၈ | - | | |
| (င) ရုံးသုံးကိရိယာ (ပရိဘောဂ) | | ၂၀.၀ | ၁၈.၀ | ၁၆.၀ | ၁၄.၀ | ၁၂.၀ | ၁၀.၀ | ၈.၀ | ၆.၀ | ၄.၀ | ၂.၀ | - |
| (စ) ကြိုတင်အသုံးစရိတ် | | ၂၆.၀ | ၂၃.၄ | ၂၀.၈ | ၁၈.၂ | ၁၅.၆ | ၁၃.၀ | ၁၀.၄ | ၇.၈ | ၅.၂ | ၂.၆ | - |
| | | ၁၄၆၄.၆ | ၁၃၅၃.၁ | ၁၂၄၁.၆ | ၁၁၃၀.၁ | ၁၀၁၈.၆ | ၉၀၇.၁ | ၇၉၅.၆ | ၆၈၄.၁ | ၅၇၂.၄ | ၄၆၅.၅ | ၃၅၈.၃ |
| ၂။ ယာယီပစ္စည်းများ | | ၆၁၁.၄ | ၁၆၇၉.၉ | ၂၂၈၂.၉ | ၂၇၉၆.၆ | ၂၇၉၁.၄ | ၃၂၁၂.၉ | ၃၅၉၀.၆ | ၄၁၅၇.၄ | ၄၆၆၀.၇ | ၄၈၀၉.၉ | ၅၁၄၆.၈ |
| (က) ရရန်ကြွေးမြီ | | | ၆၄.၃ | ၆၉.၀ | ၇၄.၁ | ၈၅.၀ | ၉၁.၁ | ၉၃.၀ | ၁၀၄.၅ | ၁၁၁.၃ | ၁၁၃.၉ | ၁၂၆.၁ |
| (ခ) ကုန်ကြမ်းလက်ကျန် | | ၂၀၅.၀ | ၂၀၅.၀ | ၂၀၉.၁ | ၂၂၄.၄ | ၂၅၈.၈ | ၂၇၅.၆ | ၂၈၀.၁ | ၃၁၈.၄ | ၃၃၇.၁ | ၃၄၃.၈ | ၃၈၄.၄ |
| (ဂ) ကုန်ချောလက်ကျန် | | | ၁၆၉.၃ | ၁၇၂.၆ | ၁၈၆.၁ | ၂၁၃.၈ | ၂၂၈.၄ | ၂၃၂.၈ | ၂၆၂.၈ | ၂၇၈.၉ | ၂၈၅.၀ | ၃၁၆.၇ |
| (ဃ) ငွေသား | | ၄၀၆.၄ | ၁၂၄၁.၃ | ၁၈၃၂.၂ | ၂၃၁၂.၀ | ၂၂၃၃.၈ | ၂၆၁၇.၈ | ၂၉၈၄.၇ | ၃၄၇၁.၇ | ၃၉၃၃.၄ | ၄၀၆၇.၂ | ၄၃၁၉.၆ |
| နုတ်- | | | | | | | | | | | | |
| ၃။ ယာယီပေးရန်တာဝန်များ | | ၇၉၃.၃ | ၁၂၈၅.၉ | ၁၂၉၉.၆ | ၅၆၆.၀ | ၈၁၄.၀ | ၈၇၂.၁ | ၈၈၄.၀ | ၁၀၃၇.၈ | ၁၄၀၂.၂ | ၁၄၃၇.၀ | ၁၆၄၆.၆ |
| (က) ပေးရန်ကြွေးမြီစက်ဖိုး | | ၇၉၃.၃ | ၇၉၃.၃ | ၇၉၃.၃ | | | | | | | | |
| (ခ) အခြားပေးရန်ကြွေးမြီ | | - | ၄၁.၀ | ၄၁.၈ | ၄၄.၉ | ၅၁.၈ | ၅၅.၁ | ၅၆.၂ | ၆၃.၇ | ၆၇.၄ | ၆၈.၈ | ၇၆.၉ |
| (ဂ) ပေးရန်အမြတ်ခွန် | | | | | | ၉၆.၅ | ၁၀၃.၅ | ၁၀၄.၈ | ၁၂၃.၄ | ၁၃၀.၉ | ၁၃၄.၁ | ၁၅၃.၉ |
| (ဃ) ပေးရန်အမြတ်ပေါ်ဝေစု | | | ၄၅၁.၆ | ၄၆၄.၅ | ၅၂၁.၁ | ၆၆၅.၈ | ၇၁၃.၅ | ၇၂၃.၀ | ၈၅၀.၇ | ၁၂၀၃.၉ | ၁၂၃၄.၁ | ၁၄၁၅.၈ |
| ၄။ ပေးရန်တာဝန်ထက်ပိုသောယာယီပစ္စည်း | ၂ - ၃ | (၁၈၁.၉) | ၃၉၄.၀ | ၉၈၃.၃ | ၁၆၃၀.၆ | ၁၉၇၇.၃ | ၂၃၄၀.၈ | ၂၇၀၇.၆ | ၃၁၁၉.၆ | ၃၂၅၈.၅ | ၃၃၇၂.၉ | ၃၅၀၀.၂ |
| ၅။ စုစုပေါင်းပစ္စည်းများ | ၁ - ၄ | ၁၂၈၂.၇ | ၁၇၄၇.၁ | ၂၂၂၄.၉ | ၂၇၆၀.၇ | ၂၉၉၅.၉ | ၃၂၄၇.၉ | ၃၅၀၃.၂ | ၃၈၀၃.၇ | ၃၈၃၀.၉ | ၃၈၃၈.၄ | ၃၈၅၈.၅ |
| ရင်းနှီးငွေရှယ်ယာတန်ဖိုး | | ၁၂၈၂.၇ | ၁၂၈၂.၇ | ၁၂၈၂.၇ | ၁၂၈၂.၇ | ၁၂၈၂.၇ | ၁၂၈၂.၇ | ၁၂၈၂.၇ | ၁၂၈၂.၇ | ၁၂၈၂.၇ | ၁၂၈၂.၇ | ၁၂၈၂.၇ |
| စုဆောင်းထိန်းထားအမြတ် | | - | ၄၆၄.၄ | ၉၄၂.၂ | ၁၄၇၈.၀ | ၁၇၁၃.၂ | ၁၉၆၅.၂ | ၂၂၂၀.၅ | ၂၅၂၁.၀ | ၂၅၄၈.၂ | ၂၅၅၅.၇ | ၂၅၇၅.၈ |
| | | ၁၂၈၂.၇ | ၁၇၄၇.၁ | ၂၂၂၄.၉ | ၂၇၆၀.၇ | ၂၉၉၅.၉ | ၃၂၄၇.၉ | ၃၅၀၃.၂ | ၃၈၀၃.၇ | ၃၈၃၀.၉ | ၃၈၃၈.၄ | ၃၈၅၈.၅ |

# ရွှေခြင်္သေ့အင်တာနေရှင်နယ်ဟိုးလ်ဒင်းစက်ရုံ၏
# စီမံကိန်းဆိုင်ရာ ငွေသားစီးဆင်းမှု

ဇယား - ၁၅

အမေရိကန်ဒေါ်လာ ( ၀.၀၀၀ )

| အကြောင်းအရာ \ နှစ် | အညွှန်း | အကြိုနှစ် | ပထမ | ဒုတိယ | တတိယ | စတုတ္ထ | ပဉ္စမ | ဆဋ္ဌမ | သတ္တမ | အဋ္ဌမ | နဝမ | ဒသမ | စုစုပေါင်း |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| ၁။ စီးဝင်ငွေ | | | | | | | | | | | | | |
| (က) ရင်းနှီးငွေ | ဇယား၃-က | ၁၁၅၄.၄ | | | | | | | | | | | ၁၁၅၄.၄ |
| (ခ) အကြွေးဖြင့်ဝယ် | ဇယား၄ | | | | | | | | | | | | |
| (ဂ) ငွေသားရောင်းရငွေ | ဇယား၅ | | ၃၁၅၂.၈ | ၃၄၄၄.၄ | ၃၇၀၂.၂ | ၄၂၃၇.၄ | ၄၅၄၇.၇ | ၄၆၄၈.၉ | ၅၂၁၅.၄ | ၅၅၅၆.၁ | ၅၆၉၀.၃ | ၆၂၉၀.၈ | ၄၆၄၈၆.၀ |
| (ဃ) အခြားဝင်ငွေ | ဇယား ၆ | | ၁၃.၀ | ၁၃.၀ | ၁၃.၇ | ၁၅.၄ | ၁၆.၁ | ၁၆.၁ | ၁၇.၉ | ၁၈.၆ | ၁၈.၆ | ၂၀.၃ | ၁၆၂.၇ |
| စုစုပေါင်းစီးဝင်ငွေ | | ၁၁၅၄.၄ | ၃၁၆၅.၈ | ၃၄၅၇.၄ | ၃၇၁၅.၉ | ၄၂၅၂.၈ | ၄၅၆၃.၈ | ၄၆၆၅.၀ | ၅၂၃၃.၃ | ၅၅၇၄.၇ | ၅၇၀၈.၉ | ၆၃၁၀.၁ | ၄၇၈၀၃.၁ |
| ၂။ စီးထွက်ငွေ | | | | | | | | | | | | | |
| (က) ပုံသေပစ္စည်းများဝယ် | ဇယား ၃ | ၅၁၇.၀ | | | | | | | | | | | ၅၁၇.၀ |
| (ခ) ကြိုတင်စရိတ်ကုန်ကျငွေ | ဇယား ၃ | ၂၆.၀ | | | | | | | | | | | ၂၆.၀ |
| (ဂ) ကုန်ကြမ်းဝယ်ငွေ | ဇယား ၃+၈ | ၂၀၅.၀ | ၂၀၀၉.၂ | ၂၀၉၀.၄ | ၂၂၄၁.၂ | ၂၅၈၁.၂ | ၂၇၅၂.၅ | ၂၈၀၉.၈ | ၃၁၇၆.၆ | ၃၃၆၇.၁ | ၃၄၃၆.၉ | ၃၈၃၅.၅ | ၂၈၅၀၅.၄ |
| (ဃ) တိုက်ရိုက်စရိတ်လစာ | ဇယား ၉ | | ၆၁.၉ | ၆၁.၉ | ၆၈.၁ | ၆၈.၁ | ၇၄.၉ | ၇၄.၉ | ၈၂.၄ | ၈၂.၄ | ၉၀.၆ | ၉၀.၆ | ၇၅၅.၈ |
| (င) တိုက်ရိုက်စရိတ် | ဇယား ၁၀ | | ၈၇.၅ | ၈၈.၅ | ၈၉.၆ | ၉၀.၇ | ၉၁.၈ | ၉၂.၉ | ၉၄.၁ | ၉၅.၃ | ၉၆.၅ | ၉၇.၇ | ၉၂၄.၆ |
| (စ) အမြတ်ခွန်၇၅%ဆောင်ငွေ | ရှုံးမြတ်စာရင်း | | | | | ၂၈၉.၆ | ၃၀၀.၃ | ၃၁၄.၅ | ၃၇၀.၀ | ၃၉၅.၇ | ၄၀၂.၃ | ၄၆၁.၅ | ၂၅၄၃.၉ |
| (ဆ) အမြတ်ခွန်ကျန်ပေးငွေ | | | | | - | - | ၉၆.၅ | ၁၀၃.၅ | ၁၀၄.၈ | ၁၂၃.၄ | ၁၃၀.၉ | ၁၃၄.၁ | ၆၉၄.၂ |
| (ဇ) အကြွေးဝယ်ကို ပြန်ဆပ် | ဇယား ၄ | | | | ၇၉၃.၃ | - | - | - | - | - | - | - | ၇၉၃.၃ |
| (ဈ) သွယ်ဝိုက်စရိတ် (လစာ) | ဇယား ၁၁ | | ၄၄.၈ | ၄၄.၈ | ၄၉.၂ | ၄၉.၂ | ၅၄.၀ | ၅၄.၀ | ၅၉.၄ | ၅၉.၄ | ၆၄.၉ | ၆၄.၉ | ၅၄၄.၆ |
| (ည) သွယ်ဝိုက်စရိတ် | ဇယား ၁၂ | | ၁၂၇.၅ | ၁၂၉.၃ | ၁၃၀.၂ | ၁၃၁.၁ | ၁၃၄.၀ | ၁၃၅.၀ | ၁၃၆.၀ | ၁၃၈.၀ | ၁၃၉.၁ | ၁၄၀.၃ | ၁၃၄၀.၅ |
| (ဋ) အစုပေါ်အမြတ်ပေးငွေ | | | | ၄၅၁.၆ | ၄၆၄.၅ | ၅၂၀.၁ | ၆၆၅.၈ | ၇၀၃.၅ | ၇၂၃.၀ | ၈၅၀.၇ | ၁၂၀၃.၉ | ၁၂၃၄.၁ | ၆၈၃၈.၂ |
| စုစုပေါင်းစီးထွက်ငွေ | | ၇၄၈.၀ | ၂၃၃၀.၉ | ၂၈၆၆.၅ | ၃၈၃၆.၁ | ၃၇၃၀.၀ | ၄၀၇၉.၈ | ၄၂၉၈.၁ | ၄၇၄၆.၃ | ၅၀၁၂.၀ | ၅၅၇၆.၁ | ၆၀၅၇.၇ | ၄၃၄၈၃.၅ |
| ၃။ ပိုဝင်ငွေ(+) ပိုထွက်ငွေ(-) | | ၄၀၆.၄ | ၈၃၄.၉ | ၅၉၀.၉ | (၁၂၀.၂) | ၅၂၂.၈ | ၃၈၄.၀ | ၃၆၆.၉ | ၄၈၇.၀ | ၄၆၂.၇ | ၁၃၂.၈ | ၂၅၂.၄ | ၄၃၁၉.၆ |
| ၄။ ဆက်တိုက်ပေါင်း | | ၄၀၆.၄ | ၁၂၄၁.၃ | ၁၈၃၂.၂ | ၁၇၁၂.၀ | ၂၂၃၄.၈ | ၂၆၁၇.၈ | ၂၉၈၄.၇ | ၃၄၇၁.၇ | ၃၉၃၄.၄ | ၄၀၆၇.၂ | ၄၃၁၉.၆ | |

## လုပ်ငန်း၏အကျိုးအမြတ်အခြေအနေ

၁၇။ လုပ်ငန်း၏အကျိုးအမြတ်အခြေအနေကို ရရှိသောအချက်အလက်များအပေါ် အခြေခံလျက်၊ တွက်ချက်ဖော်ပြထားပါသည်။ စီမံကိန်းဆိုင်ရာ၊ အရှုံးအမြတ်အခြေအနေကို စာရင်းနည်းပညာဖြင့်ခြယ်မှန်းထားပါသည်။ လုပ်ငန်းလုပ်ဆောင်မှုကာလအတွင်း၊ တစ်နှစ်ထက် တစ်နှစ်အမြတ်အစွန်းပေါ် ပေါက်ခဲ့ခြင်းသည်၊ ကုန်ကြမ်းနှင့် ကုန်ချောများ၏ ဈေးကွက်တည်ငြိမ်လာပြီး၊ အသုံးစရိတ်များကို တတ်နိုင်သမျှ FEC နိုင်ငံခြားငွေလက်မှတ်များဖြင့် ကျခံသဖြင့်၊ ငွေလဲလှယ်နှုန်းကို ထိန်းထားနိုင်ပါမည်။ သို့ဖြစ်၍ အမြတ်ပေါ် ပေါက်ခြင်းဖြစ်ပါသည်။ ၁၀နှစ်တာကာအတွင်း ထုတ်လုပ်မှုတန်ဖိုး၊ အမေရိကန်ဒေါ်လာ ၄၆. ၉ သန်းဖြစ်ပေါ် စေခဲ့ပြီး၊ နိုင်ငံတော်အတွက် အမြတ်ခွန်အမေရိကန်ဒေါ်လာ ၃. ၄ သန်းခန့်ပေးသွင်းနိုင်ပါမည်။ အခွန်နုတ်ပြီး အမြတ်ငွေမှာ အမေရိကန်ဒေါ်လာ ၁၀. ၈သန်းကျော်ပြီး၊ အမြတ်ဝေစု ၈. ၂သန်းနုတ်ပြီး၊ လုပ်ငန်းအတွင်းစုဆောင်းထားနိုင်သည့်ငွေမှာ အမေရိကန်ဒေါ်လာ ၂. ၆သန်းခန့်ရှိသောကြောင့် တိုးချဲ့ရင်းနှီးမြှုပ်နှံရန်အတွက် အားပေးလျက်ရှိပါသည်။

## လုပ်ငန်းအခြေအနေခိုင်မာမှု

၁၈။ လုပ်ငန်းအခြေအနေခိုင်မာမှုကို လက်ကျန်ရှင်းတမ်းများက ဖော်ပြနေပါသည်။ အမြတ်ဝေစုများကို စက်ရုံစတင်လုပ်ဆောင်စဉ်မှစ၍ ထုတ်ယူခဲ့သော်လည်း၊ ရင်းနှီးမြှုပ်နှံသူများ၏ရပိုင်ခွင့်သည် တစ်နှစ်ထက်တစ်နှစ် တိုးတက်လျက်ရှိပါသည်။ လုပ်ငန်းတွင်းလည်ပတ်ရန်ပုံငွေသည်လည်း နှစ်စဉ်ကြီးထွားလာလျက်ရှိသဖြင့်၊ လုပ်ငန်းလည်ပတ်မှုကို ပုံမှန်တိုးတက်ခိုင်မာစေပါသည်။ ၁၀နှစ်တာကာလကုန်ဆုံးချိန်တွင်၊ အချို့ပုံသေပစ္စည်းများကို အစားထိုးရန်၊ သို့မဟုတ် တိုးချဲ့ရန်လိုအပ်နေပါသည်။ ငွေပိုငွေလျှံဒေါ်လာ ၄. ၃သန်း ခန့် ရှိသဖြင့်၊ ပိုမိုခေတ်မီသောစက်များနှင့် အဆောက်အဦများကို တိုးချဲ့နိုင်ပါမည်။

## ငွေဖြစ်လွယ်သောပစ္စည်းများ။

၁၉။ နှစ်စဉ်ငွေပိုငွေလျှံတိုးပွားလာမှုကို ငွေသားစီးဆင်းမှုစာရင်းဇယားက ဖော်ညွှန်းနေပါသည်။ လုပ်ငန်းလိုအပ်ချက်နှင့် ဘဏ္ဍာငွေစီးဝင်မှု၊ စီးထွက်မှုများကို အဆိုပါစာရင်းဇယားတွင်တွေ့မြင်နိုင်ပါသည်။ ငွေသားအသုံး၊ ငွေလက်ငင်းရရှိမှု၊ ကြွေးမြီရမှုနှင့် ပေးချေမှုတို့ကိုဖော်ပြထားပါသည်။ အမြတ်ဝေစုကို ထုတ်ယူခဲ့သည့်တိုင်အောင် ငွေသားပိုငွေကတိုးပွားခဲ့ပါသည်။ တစ်နည်းအားဖြင့် ခိုင်မာတောင့်တင်းသော ဓနအင်အားကိုလည်း လုပ်ငန်း၏ပမာဏထက်ကျော်လွန်လျက်ရှိပါသည်။

## နိုင်ငံတော်၏မူဝါဒများနှင့်ကိုက်ညီခြင်း

၂၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ဖော်ညွှန်းထားသော ရည်ရွယ်ချက်များကို ဤစက်ရုံတည်ဆောက်မှုက ဖော်ဆောင်လျက်ရှိပါသည်။ မြန်မာနိုင်ငံတွင်ထွက်ရှိသော သစ်တောသယံဇာတများကို ပြည်ပဈေးကွက်သို့ တန်ဖိုးမြှင့်ထုတ်ကုန်များပို့သော အဓိကလုပ်ငန်းကပင် နိုင်ငံတော်အတွက် အကျိုးဖြစ်ထွန်းစေပါသည်။ ထုတ်လုပ်မှုလုပ်ငန်းတွင် အနုပညာဝန်ဆောင်မှုလုပ်ငန်းလည်း ပါဝင်သဖြင့် ဖွံ့ဖြိုးတိုးတက်စေမှုကို

အထောက်အကူပြုပေသည်။ ပြည်တွင်းသယံဇာတသစ်ကို ပြန်လည်ထုတ်လုပ်ခြင်းဖြစ်၍ အခြေခံလူတန်းစားမှစ၍ လူတန်းစားအားလုံးအပြင်၊ နိုင်ငံတော်အတွက်လည်း ကြွယ်ဝလာစေနိုင်ပါသည်။ သွင်းကုန်အစားထိုးလုပ်ငန်းအဖြစ်လည်း၊ အိမ်တွင်းအသုံးအဆောင်များကို ပြည်တွင်းဈေးကွက်တွင်လည်းဖြန့်ဖြူး နိုင်ပါမည်။ ပြည်ပပို့ကုန်အဖြစ် အဓိကဦးတည်ထားပြီး၊ နည်းပညာနှင့်အနုပညာလက်ရာများကို အသားပေးထားပါသည်။ လုပ်ငန်းစတင်သည်မှ နိုင်ငံသားများကိုခန့်ထားဆောင်ရွက်မည်ဖြစ်၍ အလုပ်အကိုင်အခွင့်အလမ်းပိုမိုထွန်းကားလာပါမည်။ ပုဂ္ဂလိကလုပ်ငန်းအဖြစ်ရပ်တည်လျက်ရှိပြီး ရန်ကုန်ဝန်းကျင်ရှိမြို့သစ်များ၌ နေထိုင်သူများအား အလုပ်အကိုင်တိုးတက်လာသည်နှင့်အမျှ လူနေမှုအဆင့်အတန်းကိုပင် မြှင့်တင်ပေးရာရောက်ပါမည်။ ထို့ပြင်ပြည်ပသို့ ပို့ကုန်အဖြစ် သစ်ကုန်ချောထည်များပို့သဖြင့် ငွေမာများကိုလည်း ရရှိလာမည်ဖြစ်၍ ငွေကြေးဈေးကွက်ကို များစွာပံ့ပိုးနိုင်ပါမည်။

**တည်ဆဲဥပဒေတစ်ရပ်ရပ်နှင့်ဆန့်ကျင်မှုမရှိခြင်း**

၂၁။ ပြည်ထောင်စုမြန်မာနိုင်ငံ၏ သစ်နှင့်ဆိုင်သောဥပဒေ၊ နည်းဥပဒေ၊ အမိန့်ညွှန်ကြားချက်များ၏ ခွင့်ပြုချက်နှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ ငွေကြေးထိန်းချုပ်မှုဆိုင်ရာ ဥပဒေများနှင့်အညီ၊ ငွေပေးငွေယူလုပ်ငန်းများကို နိုင်ငံတော်ဘဏ်များမှတစ်ဆင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

**နိုင်ငံတော်၏စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုခြင်း**

၂၂။ ခေတ်မီစက်မှုနိုင်ငံထူထောင်ရာတွင် နိုင်ငံတကာအဆင့်မီပစ္စည်းများထုတ်လုပ်ခြင်းသည် ငွေပေးငွေယူရှင်းတမ်းကို ကောင်းမွန်လာစေပြီး၊ ဖွံ့ဖြိုးမှုကိုလည်း ရယူနိုင်စေရန်အထောက်အကူပြုပါမည်။

**ငွေရေးကြေးရေးယုံကြည်စိတ်ချရမှုရှိခြင်း**

၂၃။ ဤလုပ်ငန်းပေါ်ထွန်းလာစေရန် ရွှေခြသေ့အင်တာနေရှင်နယ် ဟိုးလ်ဒင်းကုမ္ပဏီလီမိတက် တည်ထောင်သူများသည်၊ ငွေကြေးတောင့်တင်းကြသူများဖြစ်သည့်အပြင် ကုမ္ပဏီ၏လုပ်ငန်းအခြေအနေနှင့် အကျိုးများဖော်ပြထားသော တင်ပြခဲ့သည့်ကိန်းဂဏန်းအချက်အလက်၊ စာရင်းဇယားများက လုပ်ငန်း၏အခြေခိုင်မှုနှင့် ငွေကြေးတောင့်တင်းခိုင်မာမှုတို့ကို ဖော်ညွှန်းလျက်ရှိပါသည်။ ထို့အပြင်ကုမ္ပဏီအနေဖြင့် ပြည်တွင်းပြည်ပရှိဘဏ်များ၏ ထောက်ခံမှုကိုလည်း ရယူသွားပါမည်။

၂၄။ စီးပွားရေးတွက်ခြေကိုက်မှုရှိခြင်းကို ကိန်းဂဏန်းများဖြင့် အကဲဖြတ်သုံးသပ်ချက်များတွင် တွေ့မြင်နိုင်ပါသည်။

၂၅။ စက်မှုနည်းပညာသည်လည်း ကြီးမားသောအခန်းကဏ္ဍတွင် ပါဝင်ပါသည်။ အီလက်ထရောနစ်နှင့် ခေတ်မီလျှပ်စစ်နည်းပညာများဖြင့် ဖန်တည်းထားသော အဆင့်မြင့်စက်ကရိယာများကိုအသုံးချသည်နှင့်အမျှ စက်မှုနည်းပညာကိုလည်း နိုင်ငံသားများအားဖြန့်ဖြူးပေးနိုင်ပါမည်။

## လုပ်ငန်းကိုအောင်မြင်စွာကောင်အထည်ဖော်မှုအခြေအနေ

၂၆။ လုပ်ငန်းအကောင်အထည်ဖော်ရန် ရင်းနှီးမြှုပ်နှံမှုခိုင်မာခြင်း၊ ငွေကြေးလည်ပတ်မှုအားကောင်းခြင်း၊ အကောင်အထည်ဖော်မည့်သူများသည် ပြည်တွင်းပြည်ပရင်းနှီးမြှုပ်နှံမှု အတွေ့အကြုံရှိသော ပညာရှင်များ ပါဝင်ခြင်းတို့ကြောင့်၊ လုပ်ငန်းကိုအောင်မြင်စွာ အကောင်အထည်ဖော်နိုင်မည့် အခြေအနေကောင်းမွန်ပါသည်။ အထက်တွင်ဖော်ပြထားသော၊ ထုတ်လုပ်မှုအရှုံးအမြတ်စာရင်းများ၊ လက်ကျန်ရှင်းတမ်းများနှင့် ငွေသားစီးဆင်းမှု စာရင်းများရ လုပ်ငန်းတိုးမြှင့်လာရန်၊ ရာနှုန်းပြည့်စိတ်ချယုံကြည်ထိုက်ပေသည်။ ဆက်လက်ဖော်ပြမည့်၊ အကဲဖြတ် စစ်တမ်းများက၊ လုပ်ငန်း၏အခြေအနေကိုဖော်ပြကြမည် ဖြစ်ပါသည်။

## ငွေကြေးအကဲဖြတ်ခြင်း

၂၇။ ငွေကြေးတောင့်တင်းမှု၊ အကျိုးအမြတ်ပေါ်ထွန်းမှု၊ နိုင်ငံတော်အတွက်အကျိုးရှိမှု၊ နိုင်ငံသားများ အလုပ်အကိုင်အခွင့်အလမ်းများ တိုးတက်စေမှုစသော ငွေကြေးဖြင့်တိုင်းတာနိုင်မှုများအရ ဖြစ်ထွန်းပေါ်ပေါက်လာမည့် အခြေအနေများကို အောက်ပါအတိုင်းဖော်ပြထားပါသည်။

ဇယား - ၁၆

က။ နှစ်စဉ်အမြတ်ပေါ်မှုခန့်မှန်းခြေ ဒေါ်လာသန်း (၀. ၀၀၀)

| နှစ် / အခြေခံ | ပထမ | ဒုတိယ | တတိယ | စတုတ္ထ | ပဥ္စမ | ဆဋ္ဌမ | သတ္တမ | အဋ္ဌမ | နဝမ | ဒသမ | စုစုပေါင်း |
|---|---|---|---|---|---|---|---|---|---|---|---|
| ဝင်ငွေ | ၃. ၃၉ | ၃. ၄၅ | ၃. ၇၂ | ၄. ၂၈ | ၄. ၅၇ | ၄. ၆၅ | ၅. ၂၆ | ၅. ၅၈ | ၅. ၇၀ | ၆. ၃၃ | ၄၆. ၉၃ |
| % | ၁၀၀% | ၁၀၀% | ၁၀၀% | ၁၀၀% | ၁၀၀% | ၁၀၀% | ၁၀၀% | ၁၀၀% | ၁၀၀% | ၁၀၀% | ၁၀၀% |
| ကုန်ကျစရိတ် | ၂. ၄၇ | ၂. ၅၁ | ၂. ၆၀ | ၃. ၃၈ | ၃. ၆၀ | ၃. ၆၇ | ၄. ၁၁ | ၄. ၃၅ | ၄. ၄၅ | ၄. ၀၉ | ၃၆. ၁၀ |
| % | ၇၂. ၈% | ၇၂. ၈% | ၇၀. ၅% | ၇၉. ၀% | ၇၈. ၈% | ၇၈. ၉% | ၇၈. ၁% | ၇၈. ၀% | ၇၈. ၁% | ၆၄. ၆% | ၇၆. ၉% |
| အမြတ်(အခွန်နုတ်ပြီး) | ၀. ၉၂ | ၀. ၉၄ | ၁. ၀၆ | ၀. ၉၀ | ၀. ၉၇ | ၀. ၉၈ | ၁. ၁၅ | ၁. ၂၃ | ၁. ၂၅ | ၁. ၄၄ | ၁၀. ၈၃ |
| % | ၂၇. ၂% | ၂၇. ၃% | ၂၈. ၅% | ၂၁. ၀% | ၂၁. ၂% | ၂၁. ၁% | ၂၁. ၉% | ၂၂. ၀% | ၂၁. ၉% | ၃၅. ၄% | ၂၃. ၁% |

**မှတ်ချက်** ။ ဇယား ၁၆ ပါအမြတ်ပေါ်နှုန်းသည် တစ်နှစ်ထက်တစ်နှစ် တိုးတက်လာခြင်းကိုပြသည့်အပြင် အမြတ်နှုန်းမှာလည်း အတိုးထက်များသဖြင့် ကောင်းမွန်ပါသည်။

**ရည်ညွှန်း။** ဇယား ၁၃၊ ရှုံးမြတ်စာရင်း

ဇယား - ၁၇

ခ။ နှစ်စဉ်နိုင်ငံခြားငွေ ရရှိမှုနှင့် လိုအပ်ချက် အမေရိကန်ဒေါ်လာ သန်း

| အခြေခံ \ နှစ် | ပထမ | ဒုတိယ | တတိယ | စတုတ္ထ | ပဉ္စမ | ဆဋ္ဌမ | သတ္တမ | အဋ္ဌမ | နဝမ | ဒသမ | စုစုပေါင်း |
|---|---|---|---|---|---|---|---|---|---|---|---|
| ရရှိမှု | ၃.၁၇ | ၃.၄၆ | ၃.၇၂ | ၄.၂၅ | ၄.၅၆ | ၄.၆၆ | ၅.၂၃ | ၅.၅၇ | ၅.၇၀ | ၆.၃၀ | ၄၆.၆၄ |
| လိုအပ်ချက် | ၂.၃၃ | ၂.၈၇ | ၃.၈၄ | ၃.၇၃ | ၄.၁၈ | ၄.၃၀ | ၄.၇၅ | ၅.၁၁ | ၅.၅၈ | ၆.၀၅ | ၄၂.၇၅ |
| ပို/လို | ၀.၈၄ | ၀.၅၉ | (၀.၁၂) | ၀.၅၂ | ၀.၃၈ | ၀.၃၆ | ၀.၄၈ | ၀.၄၆ | ၀.၁၃ | ၀.၂၅ | ၃.၈၉ |
| ဆက်တိုက်ပေါင်း | ၀.၈၄ | ၁.၄၃ | ၁.၃၁ | ၁.၈၃ | ၂.၂၁ | ၂.၅၇ | ၃.၀၅ | ၃.၅၁ | ၃.၆၄ | ၃.၈၉ | |

မှတ်ချက်။ ။ အမေရိကန်ဒေါ်လာ FEC တို့ဖြင့် ရောင်းဝယ်သည့်သဘော စာရင်းထားမည်ဖြစ်သဖြင့် နိုင်ငံခြား ပို့လာမှု လျော့နည်းပါသည်။ ပြည်ပမှကုန်ကြမ်းဝယ်ယူမှုကိုသာပြပါက၊ နှစ်စဉ်ပျမ်းမျှ (ဇယား - ၇ အရ) အမေရိကန်ဒေါ်လာ ၀.၂၃သန်းသာ လိုအပ်ပါမည်။

ဂ။ အရင်းပြန်ပေါ်နှုန်း/အရင်းကျေကာလ

ရင်းနှီးမြှုပ်နှံငွေ ဒေါ်လာ ၂၀၇၆.၀ ထောင်

| နှစ် | အခွန်ဆောင်ပြီး အမြတ် | | ငွေမဟုတ်သော စရိတ် | စုစုပေါင်း | ဆက်ပေါင်း |
|---|---|---|---|---|---|
| ၁ | ၉၁၆.၀ | + | ၁၁၁.၅ | ၁၀၂၇.၅ | ၁၀၂၇.၅ |
| ၂ | ( ၉၄၂.၃ | + | ၁၁၁.၅ | ၁၀၅၃.၈) | ၁၀၄၈.၅ |
| | | | | | ၂၀၇၆.၀ |

$$\frac{၁၀၄၈.၅}{၁၀၅၃.၈} \times ၁၂ = ၁၁ \text{ လ } ၂၈ \text{ ရက်}$$

အရင်းကျေကာလ = နှစ်နှစ်

သို့မဟုတ်

$$\frac{\text{ရင်းနှီးမြှုပ်နှံမှု}}{\text{အခွန်နုတ်ပြီးအမြတ် + တန်ဖိုးလျော့}} = \frac{၂၀၇၆}{၁၀၈၃ + ၁၁၁.၅} = ၁ \text{ နှစ် } ၉ \text{ လ}$$

= ၂ နှစ် ဆိုပါစို့

မှတ်ချက်။ ရင်းနှီးမြှုပ်နှံမှုပမာဏမများလှဘဲ၊ အမြတ်ရရှိမှု၊ အခြေအနေကောင်းမွန်သောကြောင့် တိုတောင်းလှသောကာလအတွင်း အရင်းကျေခြင်းဖြစ်သည်။

ဃ။ အလုပ်အကိုင်အသစ်များပေါ်ပေါက်လာမှု

| အလုပ်အကိုင် | လစာ ဒေါ်လာ | ဦးရေ |
|---|---|---|
| **ထုတ်လုပ်ရေး** | | |
| စက်ရုံမန်နေဂျာ | ၇၅၀ | ၁ |
| ထုတ်လုပ်ရေးမန်နေဂျာ | ၅၀၀ | ၁ |
| စက်မှုအင်ဂျင်နီယာ | ၄၁၀ | ၁ |
| ဖိုမင် | ၃၀၀ | ၂ |
| စက်ကိုင် | ၁၂၀ | ၁၄ |
| စက်ပြင် | ၁၅၀ | ၁ |
| ကျွမ်းကျင်လုပ်သား | ၁၀၀ | ၆ |
| အထွေထွေလုပ်သား | ၈၀ | ၄ |
| ယာဉ်မောင်း (ကြီး) | ၈၀ | ၂ |
| ကုန်ထုတ်ဝန်ထမ်း | | ၃၂ |
| **စီမံခန့်ခွဲရေး** | | |
| ရုံးမန်နေဂျာ | ၅၀၀ | ၁ |
| ကုမ္ပဏီအတွင်းရေးမှူး | ၃၀၀ | ၁ |
| စာရင်းကိုင် | ၃၀၀ | ၁ |
| ပစ္စည်းထိန်း | ၃၀၀ | ၁ |
| ရုံးဝန်ထမ်း | ၁၅၀ | ၂ |
| စာရင်းဝန်ထမ်း | ၁၅၀ | ၃ |
| စတိုဝန်ထမ်း | ၁၅၀ | ၁ |
| အရောင်းဝန်ထမ်း | ၁၅၀ | ၃ |
| အဝယ်တော် | ၁၅၀ | ၃ |
| အထွေထွေ | ၁၅၀ | ၂ |
| ယာဉ်မောင်း (ကားလေး) | ၈၀ | ၂ |
| ရုံးအကူ | ၅၀ | ၂ |
| ရုံးဝန်ထမ်း | | ၂၂ |
| စုစုပေါင်း | | ၅၄ |

မှတ်ချက်။ ။ လက်ရှိလူနေမှုအဆင့်အတန်းအရ၊ ဖော်ပြပါလစာများသည် အထူးကောင်းမွန်ပြီး ထိထိရောက်ရောက် လုပ်ဆောင်နိုင်မည့် လူအင်အားဖြစ်ပါသည်။

င။ အမျိုးသားဝင်ငွေတိုးတက်မှု

| | | ဒေါ်လာ ( ၀. ၀၀၀ ) |
|---|---|---|
| ၁။ | အမြတ်ခွန်နုတ်ပြီး အမြတ် ( ၁၀နှစ် ပျမ်းမျှ ) | ၁၀၈၂. ၉ |
| ၂။ | ဝင်ငွေခွန်ရရှိမှု (၇နှစ် ပျမ်းမျှ) | ၄၈၄. ၆ |
| ၃။ | ဝန်ထမ်းလစာ | ၁၃၀. ၁ |
| | စုစုပေါင်း | ၁၆၉၇. ၆ |

စ။ နိုင်ငံခြားသုံးငွေ သက်သာမှု၊ စုဆောင်းမှု၊

အထက်(ခ)တွင် နိုင်ငံခြားသုံးငွေပိုမိုလာမှုကို ဖော်ပြထားပါသည်။ စုစုပေါင်း (၁၀)နှစ်ကာလတွင် အမေရိကန်ဒေါ်လာ ၃. ၈၉ သန်းသက်သာပါမည်။ အကယ်၍ကုန်ကြမ်းဝယ်မှုကိုသာ နိုင်ငံခြားပို့ငွေအဖြစ် မှတ်ယူလျှင်၊ နှစ်စဉ်ဒေါ်လာ ၂. ၂၂ သန်းသက်သာပြီး (၁၀)နှစ်ကာလ အဆုံးတွင်ဒေါ်လာ ၄၆. ၄ သန်း သက်သာပါမည်။

ဆ။ ရင်းနှီးငွေအပေါ်အကျိုးကျေးဇူး (စတုတ္ထနှစ်)

$$= \frac{\text{အခွန်ဆောင်ပြီးအမြတ်ငွေ + တန်ဖိုးလျော့}}{\text{ရင်းနှီးမြှုပ်နှံမှု}} = \frac{\text{၁၀၈၃ + ၁၁၁. ၅}}{\text{၂၀၇၆. ၀}} = \frac{\text{၁၁၉၄. ၅}}{\text{၂၀၇၆. ၀}} = \text{၅၇. ၅ \%}$$

ဇ။ ဝင်ငွေနှင့်ကုန်ကျစရိတ်အချိုး

အထက်အပိုဒ် (ဂ)တွင် နှစ်အလိုက်ဖော်ပြထားပါသည်။ ကုန်ကျစရိတ်သည်ပျမ်းမျှ ၇၆. ၉%ရှိပြီး၊ အမြတ်မှာ ၂၃. ၁% ရှိသဖြင့်၊ အလွန်လုပ်ကိုင်သင့်သောလုပ်ငန်းဖြစ်ပါသည်။ ဤသို့အမြတ်ပေါ်ရခြင်းမှာ ထုတ်လုပ်မှုအပြင် ရောင်းဝယ်မှုအပေါ်တွင်ပါ အကျိုးသက်ရောက်မှုရှိနေခြင်းပင်ဖြစ်ပါသည်။

ဈ။ ငွေဖြစ်လွယ်မှုအခြေအနေပြအချိုး (ပဉ္စမနှစ်)

(၁) $$\frac{\text{ယာယီပစ္စည်းများနှင့်ရပိုင်ခွင့်}}{\text{ယာယီပေးရန်တာဝန်များ}} = \frac{\text{ပျမ်းမျှ ၂၈၉၁. ၂}}{\text{၈၇၂. ၁}} = \text{၃. ၃ း ၁}$$

(၂) ငွေသားလက်ကျန်အရ ငွေဖြစ်လွယ်မှုအချိုး (ပဉ္စမနှစ်)

$$= \frac{\text{ငွေသားလက်ကျန်}}{\text{ယာယီပေးရန်တာဝန်}} = \frac{\text{ပျမ်းမျှ ၂၂၉၆. ၁}}{\text{၈၇၂. ၁}} = \text{၂. ၆၃ း ၁}$$

မှတ်ချက်။ လုပ်ငန်းအခြေအနေသည် ငွေကြေးခိုင်မာတောင့်တင်းမှုကို ပြပေသည်။ မြီရှင်များအနေဖြင့် ပူပန်ဖွယ်ရာမရှိပါ။

ရည်ညွှန်းချက်။ စီမံကိန်းလက်ကျန်ရှင်းတမ်းများ ( ဇယား ၁၄ )

ည။ ကြွေးမြီနှင့်ပိုင်ခွင့်အချိုး (ပဥ္စမနှစ်)

$$= \frac{\text{ကြွေးမြီ}}{\text{ပိုင်ခွင့်}} = \frac{၈၇၂.၁}{၃၂၄၇.၉} = ၀.၂၇ : ၁$$

## အထွေထွေသုံးသပ်ချက်

၂၈။ ရွှေခြသေ့်အင်တာနေရှင်နယ် ဟိုးလ်ဒင်းကုမ္ပဏီလီမိတက်၏ လုပ်ငန်းရပ်တစ်ရပ်ဖြစ်သည့် သစ်အခြေခံပစ္စည်းများထုတ်လုပ်မည့် ရွှေခြသေ့်အင်တာနေရှင်နယ် ဟိုးလ်ဒင်းစက်ရုံသည် နိုင်ငံခြားသုံးငွေကို အခြေခံပြု၍ ရင်းနှီးမြှုပ်နှံခြင်းဖြစ်၍၊ ငွေကြေးတွက်ဆမှုများချောမောပါသည်။ မြန်မာနိုင်ငံ၏သစ်တောဆိုင်ရာ သယံဇာတများကို အကျိုးရှိစွာအကောင်အထည်ဖော်မည်ဖြစ်၍ တင်ပြထားသောကိန်းဂဏန်းများအရ တိုးတက်ဖြစ်ထွန်းရန်သေချာလှပေသည်။

၂၉။ လုပ်ငန်းများလုပ်ကိုင်ဦးစီးမည့်ပုဂ္ဂိုလ်များသည် အပြည်ပြည်ဆိုင်ရာဈေးကွက် အခြေအနေကိုလေ့လာခဲ့ကြပြီး စီးပွားရေးအဆက်အသွယ်များကိုလည်း ရယူထားကြပြီးဖြစ်ပါသည်။

၃၀။ လုပ်ငန်း၏အကျိုးအမြတ်အခြေအနေကောင်းမွန်မှု၊ လုပ်ငန်းအခြေအနေခိုင်မာမှု၊ နိုင်ငံတော်မူဝါဒများနှင့်ကိုက်ညီမှု၊ ဥပဒေများနှင့်ဆောင်ရွက်လိုမှု၊ ငွေရေးကြေးရေးစိတ်ချရမှု၊ စီးပွားရေးတွက်ခြေကိုက်မှု၊ နည်းပညာထွန်းကားစေမှုနှင့် လုပ်ငန်းကိုအောင်အောင်မြင်မြင် ဆောင်ရွက်နိုင်မှုများကို ငွေကြေးအကဲဖြတ်မှုကဏ္ဍအောက်ရှိစီးပွားရေးတိုင်းတာချက်များဖြင့် ဖော်ပြထားပါသည်။

၃၁။ အလုပ်အကိုင်အခွင့်အလမ်းတိုးပွားမှုတွင်လည်း အလုပ်ခန့်ထားမည့် ၅၄ဦးအပြင် ဤလုပ်ငန်းနှင့်နွယ်သော သယ်ယူပို့ဆောင်ရေးလုပ်ငန်း၊ အစားအသောက်ရောင်းချရေးလုပ်ငန်း၊ လူမှုဝန်ထမ်း ဆောင်ရွက်မှုလုပ်ငန်း စသောထပ်ပွားအလုပ်အကိုင်များလည်း ပေါ်ပေါက်လာမည်ဖြစ်သည့်အပြင် အမျိုးသားဝင်ငွေကိုလည်း အမေရိကန်ဒေါ်လာ ၁.၆ သန်းကျော် နှစ်စဉ်တိုးတက်လာစေမည်ဖြစ်ပါသည်။

၃၂။ စီးပွားရေးအတိုင်းအတာပြကိန်းများအရ ယခုတည်ဆောက်အကောင်အထည်ဖော်မည့် လုပ်ငန်းသည် အမျိုးသားစီးပွားရေးတိုးတက်မှုကို အထောက်အကူများစွာပြုနေသဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ အမြန်ဆုံးတည်ဆောက်၊ အကောင်အထည်ဖော်ရန်၊ သင့်လျော်လှပါသည်။

# မြေငှားရမ်းခြင်းသဘောတူစာချုပ်မူကြမ်း

ဤမြေငှားသဘောတူစာချုပ်ကို ၁၉၉၆ ခုနှစ်၊ လ(   )ရက်နေ့တွင် ရန်ကုန်မြို့၊ မရမ်းကုန်းမြို့နယ်၊ သီရိမင်္ဂလာလမ်း၊ အမှတ် ၁၅၁(စီ)နေ ဒေါ်ခင်ရီ(အမျိုးသားမှတ်ပုံတင်အမှတ် အာဘီ/၀၁၈၅၆၅) (နောင်တွင် "အငှားချထားသူ" ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်း၏ အမွေစားအမွေခံများ၊ ဥပဒေအရခွင့်ပြုထားသည့် ခန့်အပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်ပါသည်။)က တစ်ဖက်နှင့် အခြားတစ်ဖက်တွင် ရန်ကုန်မြို့၊ စမ်းချောင်းမြို့နယ်၊ ဆရာထွန်းလမ်း၊ အမှတ်(၃)တွင် တည်ရှိသော မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် "ရွှေခြင်္သေ့အင်တာနေရှင်နယ်(ဟိုးလ်ဒင်း)ကုမ္ပဏီလီမိတက်" (နောင်တွင် "အငှားချထားခံရသူ"ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်း၏ အမွေစားအမွေခံများ၊ ဥပဒေအရခွင့်ပြုထားသည့် ခန့်အပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်ပါသည်။)က တစ်ဖက်တို့သည် အောက်ပါ စည်းကမ်းချက်များ သတ်မှတ်၍ နှစ်ဦးနှစ်ဖက် ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

## ၁။ နိဒါန်း

၁–၁ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် မြေငှားရမ်းခြင်းနှင့်စပ်လျဉ်း၍ အဖိုးစားနားအဖြစ် အောက်ပါသဘောတူညီချက်တို့ကို ပြုလုပ်ကြပါသည်။

၁–၂ ဤသဘောတူစာချုပ်အရ"ရွှေခြင်္သေ့အင်တာနေရှင်နယ်(ဟိုလ်းဒင်း)ကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံသား ဒေါ်ခင်ရီ တရားဝင်ပိုင်ဆိုင်သော ပုလဲမြို့၊ မြေတိုင်းရပ်ကွက်အမှတ် ၅၃၂ ဘီ၊ မြေကွက်အမှတ် ၂၄၈ နှင့် ၂၅၅ မှ မြေဧရိယာ ၀ ဒသမ ၃၂ ဧက (နောင်တွင် သစ်သားပရိဘောဂစက်ရုံ တည်ဆောက်ရန်) အတွက် ငှားရမ်းရန်သဘောတူကြပါသည်။ ယင်း"မြေ"နှင့် ပတ်သက်သော အထောက်အထား မြေပုံများကို နောက်ဆက်တွဲအဖြစ် ဖော်ပြထားပါသည်။

## ၂။ အာမခံချက်နှင့် ကိုယ်စားပြုခြင်း

၂–၁ အငှားချထားသူသည် အငှားချထားသည့် မြေကို တရားဝင်ပိုင်ဆိုင်မှုရှိကြောင်း တာဝန်ယူ အာမခံပါသည်။ အငှားချထားခြင်းခံရသူသည် စာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အားပြည့်စုံသူဖြစ်ပါသည်။ ဤစာချုပ်တွင် လက်မှတ်ရေးထိုးသူနှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ် ချုပ်ဆို၍ ဥပဒေအရ လုပ်ပိုင်ခွင့် အခွင့်အာဏာနှင့် ပြည့်စုံသူများဖြစ်ကြောင်း အာမခံပါသည်။

## ၃။ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ

အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

(၁) ငှားရမ်းခပေးချေမှုနှင့်ပတ်သက်၍ ဖော်ပြထားသော နေ့ရက်များ၊ သတ်မှတ်ချက်များအတိုင်း ငှားရမ်းခကို ပေးရမည်။

(၂) အငှားချထားသူ၏ စာဖြင့် ကြိုတင်ခွင့်ပြုချက်မရဘဲ "မြေ"အားလုံး(သို့မဟုတ်) တစ်စိတ်တစ်ဒေသကို ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းရောင်းချခြင်း မပြုလုပ်ရ။

(၃) "မြေ"အားလုံး(သို့မဟုတ်) တစ်စိတ်တစ်ဒေသအပေါ်တွင် လုပ်ဆောင်ချက်အားလုံးသည် ပြည်ထောင်စု မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေသများနှင့် အညီ လုပ်ကိုင်ဆောင်ရွက်ကြောင်း အာမခံရမည်။

(၄) အငှားချထားခြင်းခံရသူသည် အငှားချထားသည့်မြေနှင့်စပ်လျဉ်း၍ မြေခွန်မှအပ လုပ်ငန်းနှင့် ပတ်သက်သော အခြားအခွန်အခများကို ပေးဆောင်ရမည်။

## ၄။ အငှားချထားသူ၏တာဝန်ဝတ္တရားများ

အငှားချထားသူ၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

(၁) အငှားချထားသူသည် အငှားချထားသည့်မြေနှင့် ယင်းမြေပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ်တို့ကို အငှားချထားခံရသူသို့ အေးချမ်းသာယာစွာ လွှဲပြောင်းပေးအပ်ရမည်။

(၂) အငှားချထားသူသည် အငှားချထားသည့်ပစ္စည်းများကို ပိုမိုကောင်းမွန်စေရေးအတွက် လိုအပ်သော မွမ်းမံပြင်ဆင်မှုများ ပြုလုပ်နိုင်ရန် အငှားချထားခြင်းခံရသူသို့ ခွင့်ပြုပေးရမည်။

(၃) အငှားချထားသည့် မြေအတွက် မြေခွန်ကို ပေးဆောင်ရမည်။

## ၅။ လွှမ်းမိုးသောဥပဒေ

၅–၁ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် ပြည်ထောင်စုမြန်မာနိုင်ငံရှိ ဥပဒေများနှင့်အညီ လုပ်ကိုင် ဆောင်ရွက်ရမည်။

## ၆။ ငှားရမ်းကာလ

ငှားရမ်းကာလကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ဆောက်လုပ်မှုကာလကို ချန်လှပ်ပြီး စီးပွားရေး ဆောင်ရွက်မှုစတင်သည့်ရက်မှစ၍ ကနဦး(၂၀)နှစ်ကာလ သတ်မှတ်ပါသည်။ အဆိုပါ သက်တမ်းကာလ ကုန်ဆုံးပြီး မြေငှားသက်တမ်းကို တိုးမြှင့်လိုပါက နှစ်ဦးနှစ်ဖက် သဘောတူညီချက် နှင့်အညီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့် နောက်ထပ် နှစ် ၂၀ အထိ သက်တမ်းတိုးမြှင့်နိုင်သည်။

## ၇။ ငှားရမ်းခနှုန်း

၇–၁ ဤစာချုပ်၏ "မြေ"ငှားရမ်းခနှုန်းကို တစ်နှစ်/တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁.၂၃၈ နှုန်း ဖြင့် (၀.၁ ဒသမ ၃၂ ကျော်) (၁၂၉၅ စတုရန်းမီတာ)နှစ် ၂၀ (နှစ်ဆယ်တိတိ)အတွက် အမေရိကန်ဒေါ်လာ ၃၂၀၆၄၂ (သုံးသောင်းနှစ်ထောင်ခြောက်ဆယ်လေး/၂၀)ကို ကုမ္ပဏီ အစုရှယ်ယာ၏ ၂ ၁/၂ ရာခိုင်နှုန်း သတ်မှတ်ပေးရန် သဘောတူပါသည်။

၈။ ငွေပေးချေရန်နည်းလမ်း

၈-၁ “မြေ”ငှားရမ်းခကို အပိုဒ်(၇-၁)တွင် ဖော်ပြထားသည့်နှုန်းဖြင့် ကုမ္ပဏီ အစုရှယ်ယာ၏ ၂ ၁/၂ ရာခိုင်နှုန်းသတ်မှတ်ပြီးနောက် နှစ် ၂၀ (နှစ်ဆယ်)ကျော်လွန်သည့်နေ့မှစ၍ သတ်မှတ်ထားသော မြေငှားခ(အစုရှယ်ယာများ)ကို ငွေသား(အမေရိကန်ဒေါ်လာ)ဖြင့် ပေးချေရန် သဘောတူပါသည်။

၉။ သယံဇာတများ

၉-၁ ဤငှားရမ်းစာချုပ်အရ လုပ်ငန်းဆောင်ရွက်နေစဉ် သတ္တုသယံဇာတများအပါအဝင် မြှုပ်နှံထားသော ရတနာများကို မမျှော်လင့်ဘဲ တွေ့ရှိလာပါက အငှားချထားခြင်းခံရသူနှင့် မသက်ဆိုင်စေဘဲ အငှားချထားသူနှင့်သာ သက်ဆိုင်စေရမည်။

၁၀။ ပျက်ကွက်မှု

၁၀-၁ အငှားချထားခြင်းခံရသူသည် မည်သည့်အကြောင်းကြောင့်မဆို ဤစာချုပ်ပါ စည်းကမ်းချက်များကို ဆောင်ရွက်ရန်(သို့မဟုတ်) လိုက်နာရန် ပျက်ကွက်လျှင် ၎င်းအပြင် ယင်းပျက်ကွက်မှုအတွက် အငှားချထားသူက ယင်းသို့ မဆောင်ရွက်မှု) (သို့မဟုတ်) မလိုက်နာမှုကို ပြုပြင် ဆောင်ရွက်ပေးရန် အပြင် အကြောင်းကြားသည့်အချိန်မှ ရက်(၃၀) သုံးဆယ်အတွင်း ဆောင်ရွက်ရန်ပျက်ကွက်လျှင် အငှားချထားသူသည် မြေပေါ်သို့ လွတ်လပ်စွာ ပြန်လည်ဝင်ရောက်၍ မြေပိုင်ဆိုင်မှုကို ရယူနိုင်ပြီး ထိုအချိန်မှစ၍ “မြေ”ငှားစာချုပ်သည် ရပ်စဲစေရမည်။ သို့ရာတွင် ယင်းသို့ မြေပေါ် ပြန်လည် ဝင်ရောက်ခွင့်သည် အငှားချထားခြင်းခံရသူထံမှ ယင်းသို့ စာချုပ်ရပ်စဲသည့် (သို့မဟုတ်) အငှားချထားခြင်းခံရသူက ဤစာချုပ်ပါ အခြားစည်းကမ်းများနှင့် သတ်မှတ်ချက်များကို ချိုးဖောက်သည့်နေ့ အထိ အငှားချထားခြင်းခံရသူက ပေးရန်ရှိသော ငှားခများ(သို့မဟုတ်) ငွေကြေးများကို ပြန်လည် တောင်းခံခြင်းအတွက် အငှားချထားသူအား အဟန့်အတားမဖြစ်စေရ။

၁၁။ အကျိုးသက်ရောက်သည့်

၁၁-၁ ဤသဘောတူစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့ တရားဝင် အတည်ပြုလက်မှတ်ရေးထိုးသည့်နေ့မှ စ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၂။ အငြင်းပွားမှုဖြေရှင်းခြင်း

စာချုပ်ပါစည်းကမ်းချက်များနှင့်ပတ်သက်၍ အငြင်းပွားမှုပေါ်ပေါက်လာပါက အောက်ပါအတိုင်း ဆောင်ရွက်ရမည်-

၁၂-၁ နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ စေ့စပ်ဆွေးနွေးခြင်းနည်းလမ်းဖြင့် ဆောင်ရွက်ရမည်။

၁၂-၂ စေ့စပ်ဆွေးနွေး၍ ဖြေရှင်းနိုင်စွမ်းမရှိပါက ၁၉၄၄ခုနှစ် မြန်မာနိုင်ငံ အနုညာတအက်ဥပဒေ၊ မြန်မာနိုင်ငံ အက်ဥပဒေအမှတ် ၄/၁၉၄၄ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဖြေရှင်းဆောင်ရွက်ရမည်။

၁၃။ မလွဲမရှောင်နိုင်ဖြစ်ရပ်များ

၁၃-၁ မလွဲမရှောင်နိုင်ဖြစ်ရပ်များနှင့် စပ်လျဉ်း၍ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ လေမုန်တိုင်းကျခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်း အစရှိသည့် အစိုးမရနိုင်သည့် ဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်များကို ထမ်းဆောင်ရန် ပျက်ကွက်ပါက ၎င်းအပေါ်တွင် မည်သည့်တာဝန်မျှ မရှိစေရ။ သို့ရာတွင် အဆိုပါ မလွဲမရှောင်နိုင်သည့် ဖြစ်ရပ် ပေါ်ပေါက်ခြင်းကို ဖြစ်ပေါ်သည့် အချိန်မှ ၂၄း၀၀ နာရီအတွင်း အခြားတစ်ဖက်သို့ စာဖြင့် အကြောင်းကြားရမည်။ အကြောင်းကြားစာကို လက်ခံရရှိသူမှ မလွဲမရှောင်နိုင်သည့်ဖြစ်ရပ်များကို သဘောတူလျှင် ယင်း မလွဲမရှောင်နိုင်သည့် ကာလကို စာချုပ်ပါ သက်တမ်းကာလတွင် ထည့်သွင်းရေတွက်ခြင်းမပြုရန် သဘောတူညီကြပါသည်။

၁၄။ စာချုပ်ပြင်ဆင်ခြင်း

၁၄-၁ စာချုပ်ပြင်ဆင်ခြင်းကိစ္စနှင့်စပ်လျဉ်း၍ ဤစာချုပ်ပါ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း ထပ်မံဖြည့်စွက်ခြင်းပြုလိုပါက အငှားချထားသူနှင့် အငှားချထားခံရသူတို့ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်အရသာ ပြုလုပ်နိုင်သည်။

၁၄-၂ စာချုပ်ပြင်ဆင်ခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်စေရမည်။

၁၅။ စာချုပ်ရပ်စဲခြင်း

၁၅-၁ အောက်ပါအကြောင်းအရာများ တစ်ခုခုဖြစ်ပေါ်ပါက ဤသဘောတူစာချုပ်ကို ရပ်စဲရမည်။

(၁) ကုမ္ပဏီသည် လုပ်ငန်းသက်တမ်းကာလအတွင်း ကြီးစွာ ဆက်တိုက်ဆုံးရှုံးမှုများ ပေါ်ပေါက်နေခြင်း၊

(၂) အခြားတစ်ဖက်က သဘောတူစာချုပ်ပါ တာဝန်များကို ထမ်းဆောင်ရန်ပျက်ကွက်ခြင်း၊

(၃) ကုမ္ပဏီ၏ မူလ ရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း၊

(၄) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုလုပ်နိုင်သော ဖြစ်ရပ်များ ဖလထက်ကျော်လွန် ပေါ်ပေါက်ခြင်း၊

၁၅-၂ ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ စာချုပ် ရပ်စဲခြင်းသည် အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၆။ ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ခြင်း

၁၆-၁ အငှားချထားခြင်းခံရသူသည် အငှားချထားခြင်းခံရသည့်မြေနေရာတွင် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် ညစ်ညမ်းမှု၊ လေထု၊ ရေထု၊ မြေထု၊ သဘာဝအန္တရာယ်များ ဖြစ်ပေါ်ခြင်းတို့

